မိတ္တူကို

ခရိုင်အုပ်ချုပ်ရေးမှူး၊ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ကျောက်ဖြူမြို့

ဦးအောင်လှိုင်ဦး (Managing Director)၊ MCM Energy Company Limited

လက်ခံစာတွဲ/မျှောစာတွဲ



# MCM Energy Company Limited

Yangon Office : No, 20/21, Thukhawaddy Road, 6 Quarter, Yankin Township, Yangon, Myanmar
Tel; +95-1-2334467-69, Fax; +95-1-2334471, Email; mcmp@mcmpacific.com
Nay Pyi Taw Office : No, 566-A, Paung Laung (2), Yarzar Htarni Road, Pyinmana, Myanmar
Tel; +95-67-21866, Fax; +95-67-23811, Email; npt@mcmpacific.com

စာအမှတ်။ MCM Energy /010/ Project-2 / 2017
ရက်စွဲ ။ ၂၀၁၇ ခုနှစ်၊ မေလ ၂၉ ရက်

သို့
မြို့နယ်ဦးစီးဌာနမှူး
လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ကျောက်ဖြူမြို့။

အကြောင်းအရာ။ **MCM Energy Co.,Ltd မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ထပ်တိုးဝယ်ယူထားသော မြေအား လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်ထားခြင်း**

ရည်ညွှန်းချက်။ MCM Energy Company Limited ၏ (၂၆-၅-၂၀၁၇) ရက်စွဲပါ စာအမှတ် - MCM Energy/ 009 / Project-2 / 2017

၁။ MCM Energy Co.,Ltdသည် ရခိုင်ပြည်နယ်၊ ကျောက်ဖြူခရိုင်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စုနယ်မြေတွင် ကမ်းလွန်ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းစီမံကိန်း (ရေနက်ဆိပ်ကမ်းအပါအဝင်)(Offshore Supply Base Port Project)၊သဘာဝဓာတ်ငွေ့ရည် လက်ခံ/သိုလှောင်/ဖြန့်ဖြူးရေးလုပ်ငန်းစီမံကိန်း (သဘာဝဓာတ်ငွေ့သုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံအပါအဝင်) ( LNG Terminal Project)စသည့် စီမံကိန်းလုပ်ငန်းများကို အကောင်အထည်ဖော်တည်ဆောက်နိုင်ရန် ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၀၈)၊ ရွာမကွင်းအတွင်းမှ လယ်မြေ(၄၄.၈၄)ဧက၊ ဥယျာဉ်ခြံမြေ (၉၅.၅၀)ဧက၊ စုစုပေါင်း (၁၄၀.၃၄)ဧကကိုဝယ်ယူ၍ လယ်ယာမြေကို အခြားနည်းဖြင့်အသုံးပြုခွင့် လျှောက်ထားခဲ့ပြီးဖြစ်ပါသည်။

၂။ MCM Energy Co.,Ltd မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အလျားမီတာ (၆၀၀)ခန့်ရှိသော နိုင်ငံတကာအဆင့်မီ ရေနက်ဆိပ်ကမ်း (Deep Sea Port) ထည့်သွင်း တည်ဆောက်နိုင်ရန်အတွက် အထက်ပါ ဝယ်ယူထားပြီးဖြစ်သော မြေ(၁၄၀.၃၄)ဧကအပြင် ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၀၈)၊ ရွာမကွင်းအတွင်းမှ ဒေါ်အေးချမ်းနု၏ ဥယျာဉ်ခြံမြေ(၆.၃၆)ဧကကို (၂၃.၅.၂၀၁၇)ရက်နေ့တွင် ထပ်မံဝယ်ယူခဲ့ပါသည်။

၃။ ထိုကဲ့သို့ဝယ်ယူခဲ့သော ဥယျာဉ်ခြံမြေ (၆.၃၆)ဧကကို မြေစာရင်းပုံစံ (၁၀၅)ကူးယူခွင့်ပြုရန်အတွက် အထက်ရည်ညွှန်းချက်ပါစာဖြင့် တင်ပြထားပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ MCM Energy Co.,Ltd မှ မန်နေးဂျင်းဒါရိုက်တာ ဦးအောင်လှိုင်ဦး အမည်ဖြင့် ထပ်မံဝယ်ယူထားသော ရခိုင်ပြည်နယ်၊ ကျောက်ဖြူခရိုင်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၀၈)၊ ရွာမကွင်းအတွင်းရှိ ဥယျာဉ်ခြံမြေ (၆.၃၆)ဧကကို အထက်ပါ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် လယ်ယာမြေအားအခြားနည်းဖြင့်အသုံးပြုခွင့်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြလျှောက်ထားအပ်ပါသည်။

ပူးတွဲပါ။ အထက်တင်ပြပါ MCM Energy Co.,Ltd.မှ မဒေးကျွန်းကျေးရွာအုပ်စုတွင် မြေဝယ်ယူခဲ့သော စာချုပ်မိတ္တူ(၁)စောင်။

ရိုသေလေးစားစွာဖြင့်

ဦးအောင်လှိုင်ဦး
Managing Director

မိတ္တူကို-

ခရိုင်အုပ်ချုပ်ရေးမှူး၊ ကျောက်ဖြူခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်ဖြူမြို့။
ခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန၊ ကျောက်ဖြူမြို့။
မြို့နယ်အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်ဖြူမြို့။
ရုံးလက်ခံ
မျှောစာတွဲ

မြေစာရင်းပုံစံ - ၁၀၅

2016 -130404

| | |
|---|---|
| သက်သေခံ / မှန်ကန်ကြောင်း / သက်သေမခံ | သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေကို လက်ခံရေးကူးရန်ပုံစံ |

**DALMS**

စာအုပ် ၁၆ လက်မှတ် ၈ ရှိုး

မှုံးနှံတံဆိပ်ခေါင်းကပ်ရန် ၃၀၀ကျပ် K 300

| | |
|---|---|
| တိုင်းဒေသကြီး/ပြည်နယ်<br>ရှမ်း | ကျွန်း ၆၈<br>ဦးအောင်မြင့် (ဥယျာဉ်)<br>ကွ ၇၄၁<br>ဦးခင်ချို (ဥယျာဉ်)<br>ဦးအောင်မြင့် (လယ်)<br>ဦးအောင်မြင့် (ဥယျာဉ်) |
| ခရိုင် ကျောက်မဲ | |
| မြို့နယ်/မြို့နယ်ခွဲ<br>ကျောက်မဲ | |
| ရပ်ကွက်/ကျေးရွာအုပ်စု<br>မအေးကျွန်း | |
| ကွင်း/အကွက်အမှတ်နှင့်အမည်<br>၅၀၈ / ??? ကွင်း | ညွှန်ပြချက်<br>→ လျှောက်ထားမြေဘောင်ရောင် (အနီ)<br>→ ဦးပိုင်ရှိ ဘောင်ရောင် (အပြာ) |
| ဦးပိုင်အမှတ်/မြေကွက်အမှတ်<br>ကွ ၇၄၁ | |

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ကွ ၇၄၁ | ဦးအောင်ကျော်ဦး | | ဥယျာဉ် | ၃.၃၆ | |
| | | | | | |
| | | | | | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | အခြားနည်းအသုံးပြုခွင့်လျှောက်ထားရန် |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် - ဦးအောင်ကျော်ဦး Managing Director MCM Energy Co. Ltd

လျှောက်လွှာတင်သည့်နေ့စွဲ - ၁၁.၆.၂၀၁၇

လျှောက်ထားသူသို့ထုတ်ပေးသည့်နေ့စွဲ - ၁၇.၆.၂၀၁၇

ယခုအထက်တွင်ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော(၂၀၁၇-၁၈)ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းမြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ -

ရုံးတံဆိပ်

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် -

နေ့စွဲ -

(ဝေယံခိုင်)

စိစစ်အတည်ပြုပါသည်၊

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ် နေ့စွဲ ၁၉.၆.၂၀၁၇

မြေစာရင်းပုံစံ(၁၀၆)

# ဦးပိုင်တစ်ခု၏ရာဇဝင်

ခရိုင်-[illegible]-----မြို့နယ်-[illegible]-----မြေတိုင်းစာရေးအုပ်စု-[illegible]-----ကွင်း/အကွက် အမှတ်နှင့်အမည်-[illegible]-----

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်အမည်/ဂရန်ရှင်အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ(ဧက) | အခွန်တော်သင့်ငွေ (ခိုင်ကြေးအပါအဝင်) (ကျပ်) | မည်ကဲ့သို့ ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၂၀၁၇ | N၈၃ | ဦးအောင်မျိုးဦး | | ဥယျာဉ် | ၃.၃၆ | | | |

လျှောက်ထားသူအမည်-----ဦးအောင်မျိုးဦး Managing Director MCM Energy Co ltd

လျှောက်လွှာတင်သည့် နေ့စွဲ-----[illegible]-----

လျှောက်သူသို့ လက်ခံပေးအပ်သည့်နေ့စွဲ-----[illegible]-----

ရေးကူးပေးသည့်အကြောင်းအရာ-----[illegible]-----

( ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

အထက်ပါရေးကူးဖော်ပြသော အကြောင်းအရာတို့မှာ-----[illegible]-----ခုနှစ်အတွက် နှစ်စဉ်နောက်ဆက်တွဲ တိုင်းတာခြင်းမြေပုံနှင့် မှတ်ပုံတင်စာရင်းများတွင် ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်းသက်သေခံပါသည်။

အမှုတွဲထိန်းမြေတိုင်းစာရေးလက်မှတ်-----------------------------

နေ့စွဲ-----------------------------

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ်-----------------------------

နေ့စွဲ-----[illegible]-----



မြေစာရင်းပုံစံ – ၁၀၅

2016 J30406

သက်သေခံ

မှန်ကန်ကြောင်း ——— သောလက်ရှိမြေပုံ...

သက်သေခံ လက်ခံရေးကူးရန်




DALMS

ရုံးခွန်တံဆိပ်

ရေးသား ၁၄ လက်မ း ၁မိုင်

| | |
|---|---|
| တိုင်းဒေသကြီး/ပြည်နယ်<br>ရန်ကုန် | မ တေး ကျွန်း မြစ်<br>ဦးဂဲချိုး (ဥယျာဉ်)<br>ဒေါ်အေးမြင့်ဦး (ဥယျာဉ်)<br>ဒေါ်စံနု (ဥယျာဉ်)<br>၈၀၃<br>ဒေါ်အောင်ကျော်ဂေ (ဥယျာဉ်)<br>မောင်ကျွန်းဘင် (ဥယျာဉ်) |
| ခရိုင် ကျောက်တန်း | |
| မြို့နယ်/မြို့နယ်ခွဲ<br>ကျောက်တန်း | |
| ရပ်ကွက်/ကျေးရွာအုပ်စု<br>မတေးကျွန်း | |
| ကွင်း/အကွက်အမှတ်နှင့်အမည်<br>၅၀၈ / ရွာမကွင်း | သင်္ကေတများ<br>→ လျှောက်ထားမြေစေတနာ —— (အနီ)<br>→ ဦးပိုင်ရှိခောင်း —— (အပြာ) |
| ဦးပိုင်အမှတ်/မြေကွက်အမှတ်<br>၈၀၃ | |

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| | | | | | |
| ၈၀၃ | ဦးအောင်လှိုင်ဦး | | ဥယျာဉ် | ၃.၀၀ | |
| | | | | | |
| | | | | | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | အခြားနည်းအသုံးပြုခွင့်လျှောက်ထားရန် |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် - ဦးအောင်လှိုင်ဦး Managing Director MCM Energy Co Ltd

လျှောက်လွှာတင်သည့်နေ့စွဲ - ၁၁ . ၆ . ၂၀၁၇

လျှောက်ထားသူသို့ထုတ်ပေးသည့်နေ့စွဲ - ၁၇ . ၆ . ၂၀၁၇

ယခုအထက်တွင်ဖြဲဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော(၂၀၁၇-၁၈)ခုနှစ် အတွက် နောက်ဆက်တွဲပိုင်းမြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ -




တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ်

နေ့စွဲ -

(ဝေဝေ)

လက်ထောက်ဦးစီးမှူး(စာရင်းရုံး)

စိစစ်တင်ပြပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ် နေ့စွဲ ၁၇.၆.၂၀၁၇

မြေစာရင်းပုံစံ(၁၀၆)

## ဦးပိုင်တစ်ခု၏ရာဇဝင်

ခရိုင်...ကျောက်ဆည်......မြို့နယ်...ကျောက်ဆည်......မြေတိုင်းစာရေးအုပ်စု...(၁၁၁) အင်းရှင်..........ကွင်း/အကွက် အမှတ်နှင့်အမည်...၁၃၇ / [illegible]...

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်အမည်/ဂရန်ရှင် အငှါးဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ(ဧက) | အခွန်တော်သင့်ငွေ (နိုင်ကြေးအပါအဝင်) (ကျပ်) | မည်ကဲ့သို့ ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၂၀၂၂ | ၁၃၇ | ဦး[illegible] |  | ဥယျာဉ် | ၃.၀၀ |  |  |  |

လျှောက်ထားသူအမည်.....ဦး[illegible] Managing Director MCM Energy Co. Ltd

လျှောက်လွှာတင်သည့် နေ့စွဲ.....၂၂.၆.၂၀၂၂.........

လျှောက်သူသို့ လက်ခံပေးအပ်သည့်နေ့စွဲ.....၂၃.၆.၂၀၂၂.........

နေကူးပေးသည့်အကြောင်းအရာ..........

( ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

အထက်ပါနေကူးဖော်ပြသော အကြောင်းအရာတို့မှာ..........ခုနှစ်အတွက် နှစ်စဉ်နောက်ဆက်တွဲ တိုင်းတာခြင်းမြေပုံနှင့် မှတ်ပုံတင်စာရင်းများတွင် ပါရှိသည့်အတိုင်း အမှန်လက်ခံနေကူးကြောင်းသက်သေခံပါသည်။

အမှုတွဲထိန်းမြေတိုင်းစာရေးလက်မှတ်..........

နေ့စွဲ..........

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ်..........

နေ့စွဲ.....၁၉.၆.၂၀၂၂.....

# Annual Services in Offshore Supply Base Port Project

## Offshore Supply Base Port management services include-

1. Logistics Management. (အုပ်ချုပ်/ထောက်ပံ့ရေးဆိုင်ရာ စီမံခန့်ခွဲမှုလုပ်ငန်းများ)
2. Workshop Facility. (စက်မှုအလုပ်ရုံ လုပ်ငန်းများ)
3. Warehousing, Tubular and Tools Services. ( ပစ္စည်းသိုလှောင်ရုံများ၊ တွင်းကာပိုက်များနှင့် ရေနံတွင်းတူးသုံးကရိယာများ ဝန်ဆောင်မှုလုပ်ငန်းများ)
4. Other Complementary Services. ( အခြားရေနံတွင်း ရှာဖွေ / တူးဖော်ရေးလုပ်ငန်း အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်းများ)

- ❖ ဝန်ဆောင်မှုလုပ်ငန်းအသေးစိတ်အား နောက်ဆက်တွဲ (င-၂)ဖြင့် ဖော်ပြထားပါသည်။
- ❖ ဝန်ဆောင်မှုလုပ်ငန်းမှရရှိမည့်ဝင်ငွေစာရင်းအား နောက်ဆက်တွဲ (င-၃)ဖြင့် ဖော်ပြထားပါသည်။

## စီမံကိန်းမှဆောင်ရွက်မည့် ဝန်ဆောင်မှုလုပ်ငန်းများ

၁။ ထောက်ပံ့ရေးသင်္ဘောများအတွက် ဆိပ်ကမ်းအသုံးပြုခွင့်နှင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း။

၂။ ရေနံတွင်းတူးပိုက်များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၃။ စက်သုံးဆီ၊ စက်ဆီ၊ ချောဆီများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၄။ သန့်စင်ပြီးရေများ ရောင်းချပေးခြင်း။

၅။ ရေနံတွင်းတူးစင်များမှအပ်နှံသော ပြုပြင်ရန်လိုအပ်သည့် စက်ပစ္စည်းများကို စက်မှုအလုပ်ရုံတွင် ပြင်ဆင်ပေးခြင်း။

၆။ ရေနံတွင်းသုံးဘိလပ်မြေများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၇။ ရေနံတွင်းသုံးကျောက်မှုန့်များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၈။ ရေနံတွင်းတူး ရွှံ့နှင့် အားဖြည့်ပစ္စည်း (Additives) များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၉။ ရေနံတွင်းတူးလုပ်ငန်းသုံး သံထည်ပစ္စည်းများ အရည်အသွေးစစ်ဆေးခြင်း။

၁၀။ ကမ်းလွန်ရေနံတွင်းတူးစင်များမှ သယ်ဆောင်လာသော စွန့်ပစ်ပစ္စည်းများကို စနစ်တကျ ရှင်းလင်းပေးခြင်း။

၁၁။ အရေးပေါ်မီးငြိမ်းသတ်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း။

၁၂။ စီမံကိန်းလုပ်ငန်းဆိုင်ရာ ကျွမ်းကျင်မှုသင်တန်းများ ဖွင့်လှစ်လေ့ကျင့်ပေးခြင်း။

၁၃။ တွင်းတူးပစ္စည်း၊ ထုတ်လုပ်ရေးပစ္စည်း၊ စက်အရံပစ္စည်းများကို ပစ္စည်းသိုလှောင်ရုံများဖြင့် စနစ်တကျ ထိန်းသိမ်းပေးခြင်း။

၁၄။ ပြင်ပကွင်းပြင်တွင် ထားရှိနိုင်သောပစ္စည်းများကို စနစ်တကျလက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၁၅။ ကမ်းလွန်ရေနံတွင်းတူးစင် Platform များမှ Fabrication ပြုလုပ်ပေးရန် အပ်နှံသောလုပ်ငန်းများကို ပုံစံရေးဆွဲပြီး Fabrication ပြုလုပ်၍ ဝန်ဆောင်မှုပေးခြင်း

၁၆။ ဆောက်လုပ်ရေးပစ္စည်းများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

၁၇။ Offshore Platform များသို့ ရဟတ်ယာဉ်ဖြင့် ဝန်ဆောင်မှုပေးခြင်း။

## Offshore Supply Base Port Project ၏ ဝန်ဆောင်မှုလုပ်ငန်းနှုန်းထားများ

| | | | |
|---|---|---|---|
| ၁။ | OSBP ဆိပ်ကမ်းသို့ လာရောက်ဆိုက်ကပ်ပြီး ရပ်နားမည့် သင်္ဘောများအပေါ် ဆိပ်ကမ်းကပ်ခ ကောက်ခံမည့်နှုန်း<br>Marine Berthing Charges | 4.00 | US$ / ft / day |
| ၂။ | ရေနံတွင်းပိုက်များထားရန် နေရာငှားရမ်းခနှုန်း<br>Pipe Yard (Rental) | 0.80 | US$ / sq ft/ month |
| ၃။ | ပစ္စည်းသိုလှောင်ရုံတွင် သိုလှောင်ထားရှိမည့် ရေနံတွင်းသုံး ပစ္စည်းများအတွက် သိုလှောင်ရုံ ငှားခနှုန်း<br>Ware House (Rental) | 1.00 | US$ /sq ft/ month |
| ၄။ | ထုထည်ကြီးပစ္စည်းများ ထိန်းသိမ်းထားရန် နေရာငှားခနှုန်း<br>Bulk Materials (Handling Charges) | 2.00 | US$ / cu ft / month |
| ၅။ | ရေသန့်ရောင်းချမည့်နှုန်း<br>Fresh Water (Supply) | 12.00 | US$ / tonne |
| ၆။ | ဒီဇယ်ဆီရောင်းချမည့် ဈေးနှုန်းမှ ၁၀%ကော်မရှင်ခ /တွက်ယူမည့်နှုန်း<br>Prmmium Diesel (Supply) (10% Comission) | 70.00 | US$/ tonne |
| ၇။ | ဟယ်လီကော်ပတာ ငှားရမ်းခနှုန်း<br>Helicopter services | 5000.00 | US$/ Trip |

နောက်ဆက်တွဲ (င-၃)

MYANMAR CHEMICAL & MACHINERY COMPANY LIMITED

( Offshore Supply Base Port Project )

PROFIT AND LOSS ACCOUNT FORECAST STATEMENT

(US$ in Thousand)

| Sr. No. | | Particulars | Year-1 | Year-2 | Year-3 | Year-4 | Year-5 | Year-6 | Year-7 | Year-8 | Year-9 | Year-10 | Year-11 | Year-12 to 30 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | **Income** | | | | | | | | | | | | |
| | 1 | Operation Service Income | - | - | 10,441 | 18,033 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 |
| | 2 | Other Income | - | - | - | - | - | - | - | - | - | - | - | - |
| | | **Total income** | - | - | 10,441 | 18,033 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 | 29,652 |
| 2 | | **Less : Operation Expenditures** | | | | | | | | | | | | |
| | 1 | Wages & Salary | 566 | 1,675 | 1,841 | 1,499 | 1,499 | 1,499 | 1,499 | 1,499 | 1,499 | 1,499 | 1,499 | 1,499 |
| | 2 | Elecyricity Charges | 40 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 |
| | 3 | Fuel Costs | 70 | 140 | 140 | 140 | 140 | 140 | 140 | 140 | 140 | 140 | 140 | 140 |
| | 4 | Office Comsumerable Expenses | 60 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 |
| | 5 | Travelling Expenses | 60 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 |
| | 6 | Industrial Comsumerable Expenses | 60 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 | 120 |
| | 7 | Waste Disposal Expenses | 72 | 144 | 144 | 144 | 144 | 144 | 144 | 144 | 144 | 144 | 144 | 144 |
| | 8 | Interest on Loan | - | - | 7,445 | 7,445 | 6,895 | 5,732 | 4,570 | 3,407 | 2,245 | 1,470 | 695 | - |
| | 9 | Personal Protection Equipment Cost | 37.50 | 75 | 75 | 75 | 75 | 75 | 75 | 75 | 75 | 75 | 75 | 75 |
| 3 | | Total Operation Expenditures | 966 | 2,474 | 10,085 | 9,743 | 9,193 | 8,030 | 6,868 | 5,705 | 4,543 | 3,768 | 2,993 | 2,298 |
| 4 | | Net Profit / ( Loss ) before Tax | (966) | (2,474) | 357 | 8,290 | 20,459 | 21,622 | 22,784 | 23,947 | 25,109 | 25,884 | 26,659 | 27,354 |
| 5 | | Less : 5% Commercial Tax | | - | 522 | 902 | 1,483 | 1,483 | 1,483 | 1,483 | 1,483 | 1,483 | 1,483 | 1,483 |
| 6 | | Net Profit / ( Loss ) After Tax | (966) | (2,474) | (165) | 7,389 | 18,976 | 20,139 | 21,301 | 22,464 | 23,626 | 24,401 | 25,176 | 25,871 |
| 7 | | Less : 25% Corporate Tax | - | - | - | - | - | - | - | - | - | 6,100 | 6,294 | 6,468 |
| 8 | | 2 % CSR Fund On Net Profit | | | | 148 | 380 | 403 | 426 | 449 | 473 | 488 | 504 | 517 |
| 9 | | Net Profit / ( Loss ) for the Period | (966) | (2,474) | (165) | 7,241 | 18,597 | 19,736 | 20,875 | 22,015 | 23,154 | 17,813 | 18,379 | 18,886 |
| 10 | | Less: Loan Payback | - | | - | (7,120) | (15,000) | (15,000) | (15,000) | (15,000) | (10,000) | (10,000) | (9,303) | - |
| 11 | | Net Cash Surplus / ( Deficit ) | (966) | (2,474) | (165) | 121 | 3,597 | 4,736 | 5,875 | 7,015 | 13,154 | 7,813 | 9,075 | 18,886 |

**Offshore Supply Base Port Project(Kyauk Phyu)**

**ဝန်ဆောင်မှုလုပ်ငန်းမှနှစ်စဉ်ရရှိမည့် ဝင်ငွေစာရင်း**

USD ($)

| No | Items | Unit | Year-3 | | | Year-4 | | | Year-5 | | | Year-6 to Year-30 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | Qty | Price | Total | Qty | Price | Total | Qty | Price | Total | Qty | Price | Total |
| 1. | Supply Vessels | Vessel | 400 | 1,728 | 691,200 | 750 | 1,728 | 1,296,000 | 1,095 | 1,728 | 1,892,160 | 1,095 | 1,728 | 1,892,160 |
| 2. | Bulk | Vessel | 3 | 10,656 | 31,968 | 4 | 10,656 | 42,624 | 6 | 10,656 | 63,936 | 6 | 10,656 | 63,936 |
| 3. | Accommodation Vessels | Vessel | 40 | 2,128 | 85,120 | 70 | 2,128 | 148,960 | 100 | 2,128 | 212,800 | 100 | 2,128 | 212,800 |
| 4. | Pipe Yard (Rental) | Sq Ft | 164,200 | 9.6 | 1,576,320 | 246,300 | 9.6 | 2,364,480 | 432,640 | 9.6 | 4,153,344 | 432,640 | 9.6 | 4,153,344 |
| 5. | Ware House(Rental) | Sq Ft | 164,200 | 12 | 1,970,400 | 246,300 | 12 | 2,955,600 | 432,640 | 12 | 5,191,680 | 432,640 | 12 | 5,191,680 |
| 6. | Bulk Materials (Handling Charges) | Cu Ft | 35,000 | 24 | 840,000 | 40,000 | 24 | 960,000 | 100,000 | 24 | 2,400,000 | 100,000 | 24 | 2,400,000 |
| 7. | Fresh Water(Supply) | Ton | 9,248 | 12 | 110,976 | 30,000 | 12 | 360,000 | 50,000 | 12 | 600,000 | 50,000 | 12 | 600,000 |
| 8. | Premium Diesel(Supply) (10% Commission) | Ton | 1,800 | 70 | 126,000 | 3,000 | 70 | 210,000 | 5,000 | 70 | 350,000 | 5,000 | 70 | 350,000 |
| 9. | Helicopter Services | Trip | 65 | 5,000 | 325,000 | 130 | 5,000 | 650,000 | 200 | 5,000 | 1,000,000 | 200 | 5,000 | 1,000,000 |
| 10. | 300 Ton Crane | Hr | 1,350 | 222 | 299,700 | 2,100 | 222 | 466,200 | 4,100 | 222 | 910,200 | 4,100 | 222 | 910,200 |
| 11. | 100 Ton Crane | Hr | 2,100 | 180 | 378,000 | 4,200 | 180 | 756,000 | 6,500 | 180 | 1,170,000 | 6,500 | 180 | 1,170,000 |
| 12. | 60 Ton Crane | Hr | 2,100 | 150 | 315,000 | 4,200 | 150 | 630,000 | 6,250 | 150 | 937,500 | 6,250 | 150 | 937,500 |
| 13. | 20 Ton Forklift | Hr | 3,300 | 60 | 198,000 | 7,000 | 60 | 420,000 | 9,900 | 60 | 594,000 | 9,900 | 60 | 594,000 |
| 14. | 10 Ton Forklift | Hr | 3,800 | 30 | 114,000 | 8,000 | 30 | 240,000 | 11,400 | 30 | 342,000 | 11,400 | 30 | 342,000 |
| 15. | 5 Ton Forklift | Hr | 3,800 | 15 | 57,000 | 7,000 | 15 | 105,000 | 11,386 | 15 | 170,790 | 11,386 | 15 | 170,790 |
| 16. | Normal Wastages & Gargbage Disposal Services | Ton | 300 | 74 | 22,200 | 650 | 74 | 48,100 | 900 | 74 | 66,600 | 900 | 74 | 66,600 |
| 17. | Oil Wastages Disposal Services | Ton | 230 | 1,459 | 335,570 | 680 | 1,459 | 992,120 | 700 | 1,459 | 1,021,300 | 700 | 1,459 | 1,021,300 |
| 18. | Container Yard Fees | Acre | 3 | 239,566 | 718,698 | 4 | 239,566 | 958,264 | 5 | 239,566 | 1,197,830 | 5 | 239,566 | 1,197,830 |
| 19. | Open Space Rental | Acre | 4 | 190,962 | 763,848 | 6 | 190,962 | 1,145,772 | 10 | 190,962 | 1,909,620 | 10 | 190,962 | 1,909,620 |
| 20. | Incinerator Charges | Ton | 2,000 | 685 | 1,370,000 | 4,500 | 685 | 3,082,500 | 7,504 | 685 | 5,140,240 | 7,504 | 685 | 5,140,240 |
| 21. | Labour Charges | Ton | 28,000 | 4 | 112,000 | 50,345 | 4 | 201,380 | 82,000 | 4 | 328,000 | 82,000 | 4 | 328,000 |
| Totally | | | | | 10,441,000 | | | 18,033,000 | | | 29,652,000 | | | 29,652,000 |

## လုပ်ငန်းစီမံချက် ပထမအဆင့် (Phase -1) တွင် ဆောင်ရွက်မည့် လုပ်ငန်းများ

၁။ သင်္ဘောများဆိုက်ကပ်ရန် ဆိပ်ကမ်းပလက်ဖောင်း -၂၀၀ မီတာ (Marine Jetty - 200 meter)

၂။ ဆိပ်ကမ်းသို့ ရောက်ရှိလာသော ပစ္စည်းများယာယီထားရှိရန်နေရာ (Shore Front)

၃။ ရေနံနှင့်သဘာဝဓါတ်ငွေ့ တွင်းတူးလုပ်ငန်းသုံးပိုက်များထားရန်နေရာ (Pipe Yard)

၄။ ရေနံတွင်းသုံးဘိလပ်မြေဆိုင်လိုများ (Oil Well Cement Silos)

၅။ ရေနံတွင်းသုံးကျောက်မှုန့်ဆိုင်လိုများ (Barite Silos)

၆။ အုပ်ချုပ်မှုဆိုင်ရာ အဆောက်အအုံများ (Administrative Building)

၇။ လေ့ကျင့်ရေးဌာနနှင့် စားသောက်ဆိုင် (Taining & Cafeteria)

၈။ ပစ္စည်းသိုလှောင်ရုံများ (Ware Houses)

၉။ အထက်တန်းအရာရှိနေအိမ်များနှင့် ရိပ်သာ (Senior Staff Accommodation)

၁၀။ အရာထမ်းနှင့်အမှုထမ်းနေအိမ်များနှင့် ရိပ်သာ (Staff Accommodation)

၁၁။ ရေလှောင်ကန် (Water Reservoir)

၁၂။ ရေသန့်စင်စက်ရုံ (Water Treatment Plant)

၁၃။ ထရန်စဖော်မာ- ၁၀၀၀ ကေဗွီအေ (Transformer - 1000 KVA)

၁၄။ လမ်းများ (Roads)

## လုပ်ငန်းစီမံချက် ဒုတိယအဆင့် (Phase -2) တွင် ဆောင်ရွက်မည့် လုပ်ငန်းများ

၁။ သင်္ဘောများဆိုက်ကပ်ရန်ဆိပ်ကမ်းပလက်ဖောင်း - ၄၀၀ မီတာ (Marine Jetty - 400 meter)

၂။ ရေနံတွင်းသုံးရွှံ့စေးသိုလှောင်ကန် (Mud Pit)

၃။ စက်သုံးဆီသိုလှောင်ကန်များ (Tank Farm)

၄။ ပစ္စည်းသိုလှောင်ရုံများ (Ware Houses)

၅။ အရာထမ်းနှင့်အမှုထမ်းနေအိမ်များနှင့် ရိပ်သာ (Staff Accommodation)

၆။ ရေနံနှင့်သဘာဝဓါတ်ငွေ့ ရှာဖွေရေးနှင့်ထုတ်လုပ်ရေးလုပ်ငန်းသုံး စက်ပစ္စည်းများပုံစံရေးဆွဲရေးနှင့် ထုတ်လုပ်ရေးလုပ်ငန်းများအတွက်နေရာ (Space for Fabrication)

၇။ သီးသန့်နေရာ (Reserved Area)

# Myanmar Chemical & Machinery Co., Ltd

# မြန်မာဓာတုဗေဒနှင့် စက်ပစ္စည်းကုမ္ပဏီလီမိတက်




ကမ်းလွန်ရေနံနှင့်သဘာဝဓာတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက်

ထောက်ပံ့ရေးစခန်း (ကျောက်ဖြူ) တည်ဆောက်ရေးစီမံကိန်းလုပ်ငန်းစီမံချက်

**Offshore Supply Base Port Project (Kyauk Phyu)**

၅ - ၇ - ၂၀၁၇

# Myanmar Chemical & Machinery Co., Ltd
# Offshore Supply Base Port Project (Kyauk Phyu)

## မာတိကာ



| စဉ် | အကြောင်းအရာ | စာမျက်နှာ | |
|---|---|---|---|
| | | မှ | ထိ |
| ၁ | နိဒါန်း | ၁ | ၂ |
| ၂ | စီမံကိန်းအမည်နှင့် ခန့်မှန်းတည်နေရာ | ၂ | ၃ |
| ၃ | စီမံကိန်းဆိုင်ရာအချက်အလက်များ | ၃ | ၇ |
| ၄ | စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်ကုမ္ပဏီများ | ၇ | ၈ |
| ၅ | စီမံကိန်းတန်ဖိုးနှင့်ဘဏ္ဍာရေးဆိုင်ရာ တာဝန်ယူမှု | ၉ | ၉ |
| ၆ | စီမံကိန်းကြောင့်ရရှိလာမည့် အကျိုးကျေးဇူးများ | ၉ | ၁၁ |
| ၇ | အန္တရာယ်ကာကွယ်ရေးဆိုင်ရာ ဆောင်ရွက်မည့်အစီအစဉ်များ | ၁၁ | ၁၃ |
| ၈ | အုပ်ချုပ်မှုနှင့် ထောက်ပံ့ပို့ဆောင်ရေး | ၁၃ | ၁၃ |
| ၉ | ဆက်သွယ်ရေး | ၁၄ | ၁၄ |
| ၁၀ | နိဂုံး | ၁၄ | ၁၄ |

MCM

# Myanmar Chemical & Machinery Co., Ltd
# Offshore Supply Base Port Project (Kyauk Phyu)
## ကမ်းလွန်ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း (ကျောက်ဖြူ) တည်ဆောက်ရေးစီမံကိန်း လုပ်ငန်းစီမံချက်

**နိဒါန်း**

၁။ **မြန်မာနိုင်ငံ၏ လက်ရှိသဘာဝဓါတ်ငွေ့ စီမံကိန်းများအခြေအနေ။** ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်တွင် လက်ရှိကမ်းလွန်သဘာဝဓါတ်ငွေ့ စီမံကိန်းလုပ်ငန်းများအနေဖြင့် ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့၏အနောက်ဘက် ရခိုင်ကမ်းလွန်ပင်လယ်ပြင်တွင် ရွှေသဘာဝဓါတ်ငွေ့မြေစီမံကိန်း၊ ဧရာဝတီတိုင်းဒေသကြီး ပုသိမ်မြို့၏တောင်ဘက် မုတ္တမကမ်းလွန်ပင်လယ်ပြင်တွင် ရတနာသဘာဝဓါတ်ငွေ့ မြေစီမံကိန်း၊ ဧရာဝတီတိုင်းဒေသကြီး ဖျာပုံမြို့၏တောင်ဘက် မုတ္တမကမ်းလွန်ပင်လယ်ပြင်တွင် ဇော်တိက သဘာဝဓါတ်ငွေ့မြေစီမံကိန်း၊ တနင်္သာရီတိုင်းဒေသကြီး ထားဝယ်မြို့၏ အနောက်ဘက်ကမ်းလွန် ပင်လယ်ပြင်တွင် ရဲတံခွန်သဘာဝဓါတ်ငွေ့မြေစီမံကိန်းဟူ၍ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

၂။ **မြန်မာနိုင်ငံ၏ ကမ်းလွန်နှင့်ကုန်းတွင်း ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအခြေအနေ။** မြန်မာနိုင်ငံ၏ ကမ်းလွန်ပင်လယ်ပြင်၌ အထက်ပါစီမံကိန်းကြီး (၄)ခုမှ သဘာဝဓါတ်ငွေ့ ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်လျက်ရှိသည့်အပြင် နိုင်ငံတကာကုမ္ပဏီ (၂၀)မှလည်း ရေနံနှင့် သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိထားကြောင်းနှင့် အချို့ကုမ္ပဏီများမှာ Seismic Survey လုပ်ငန်းများဆောင်ရွက်လျက်ရှိကြောင်း သိရှိရပါသည်။ အလားတူပင် မြန်မာနိုင်ငံ၏ ကုန်းတွင်းလုပ်ကွက်(၂၈)ကွက်တွင် ကုမ္ပဏီ(၁၆) ခုမှ ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း သိရှိရပါသည်။ လက်ရှိအခြေအနေတွင် မြန်မာ့ကမ်းလွန်ပင်လယ်ပြင်၌ ရခိုင် ကမ်းလွန်လုပ်ကွက် (၁၆)ကွက်၊ တနင်္သာရီကမ်းလွန်လုပ်ကွက် (၂၁)ကွက်၊ စုစုပေါင်းလုပ်ကွက် (၃၇) ကွက်တို့တွင် ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေ/ တူးဖော်/ ထုတ်လုပ်ရေးလုပ်ငန်းများဆောင်ရွက်လျက် ရှိပါသည်။ နောက်ဆက်တွဲ ( က-၁ ) မှ ( က-၄ ) ။

၃။ **ကမ်းလွန်ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေး လုပ်ငန်းများအတွက်ထောက်ပံ့ရေးစခန်း(Offshore Supply Base Port ) စီမံကိန်းတည်ဆောက်ရန် လိုအပ်မှုအခြေအနေ။** မြန်မာနိုင်ငံ၏ကမ်းလွန် ပင်လယ်ပြင်နှင့်ကုန်းတွင်းပိုင်းတွင် ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ကွက် အများအပြားရှိပြီး အလား အလာကောင်းမွန်မှုကြောင့် နိုင်ငံတကာကုမ္ပဏီကြီးများမှ လာရောက်၍ ရင်းနှီးမြှုပ်နှံမှုများပြုလုပ်လျက်ရှိ ပါသည်။ ထို့ပြင် ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ကွက်သစ်များသို့ နိုင်ငံတကာကုမ္ပဏီများမှ ဆက်လက်ဝင်ရောက်လုပ်ကိုင်ခွင့်ရရှိရန် ကြိုးပမ်းဆောင်ရွက်နေကြောင်းလည်း သိရှိရပါသည်။ ထိုကဲ့သို့ နိုင်ငံတကာကုမ္ပဏီများမှ ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများဆောင်ရွက်ချိန်တွင် အသုံးပြုရမည့်

စက်ကိရိယာများ၊ လက်သုံးကိရိယာများ၊ အထောက်အကူပြုပစ္စည်းများ၊ အုပ်ချုပ်ထောက်ပံ့မှု ပစ္စည်းများ စသည်တို့ကို လက်ခံ၊ ထိန်းသိမ်း၊ ဖြန့်ဖြူး၊ ထောက်ပံ့ရေးလုပ်ငန်းများဆောင်ရွက်နိုင်မည့် နိုင်ငံတကာ အဆင့်မီ (Offshore Supply Base Port) မြန်မာနိုင်ငံတွင်မရှိသောကြောင့် စင်္ကာပူနှင့် ထိုင်းနိုင်ငံတို့တွင် သွားရောက်အပ်နှံထားရှိပြီး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း သိရှိရပါသည်။ ထိုကဲ့သို့ ဆောင်ရွက်ရခြင်းကြောင့် နိုင်ငံတော်မှ ရသင့်ရထိုက်သော အခွန်အခများမရရှိသည့်အပြင် စီမံကိန်းလုပ်ငန်းများအတွက် အချိန်နှောင့်နှေးကြန့်ကြာခြင်း လုပ်ငန်းအသုံးစရိတ်မြင့်မားခြင်းစသည့်အကျိုးဆက်များ ဖြစ်ပေါ်လျက်ရှိပါသည်။ အကယ်၍ မြန်မာနိုင်ငံတွင် နိုင်ငံတကာအဆင့်မီ ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း (Offshore Supply Base Port ) များတည်ဆောက်နိုင်ပါက နိုင်ငံတကာကုမ္ပဏီများသည် သက်ဆိုင်ရာလုပ်ငန်းခွင်များနှင့် နီးစပ်ရာ မြန်မာနိုင်ငံ၏ (Offshore Supply Base Port ) များတွင် စက်ကိရိယာများ၊ လက်သုံးကိရိယာများ၊ အထောက်အကူပြုပစ္စည်းများ၊ အုပ်ချုပ်ထောက်ပံ့မှုပစ္စည်းများကို လာရောက်အပ်နှံ၍ လုပ်ငန်းများဆောင်ရွက်နိုင်မည်ဖြစ်သောကြောင့် သက်ဆိုင်ရာကုမ္ပဏီများအတွက် စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် အချိန်နှင့် ငွေကြေးသက်သာမှု အကျိုးကျေးဇူးများရရှိမည့်အပြင် နိုင်ငံတော်မှလည်း နိုင်ငံခြားဝင်ငွေများ ထိုက်တန်စွာ ရရှိလာမည်ဖြစ်ပါသည်။ အထက်ပါအခြေအနေများကြောင့် ကျွန်ုပ်တို့မြန်မာနိုင်ငံတွင် ကမ်းလွန်ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း (Offshore Supply Base Port) စီမံကိန်းများကို နိုင်ငံတကာအဆင့်မီတည်ဆောက်ရန်လိုအပ်မှုကို တွေ့ရှိရကြောင်းတင်ပြအပ်ပါသည်။

**စီမံကိန်းအမည်နှင့် ခန့်မှန်းတည်နေရာ (Project Name and Estimated Location )**

၄။ **စီမံကိန်းအမည်။** ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်ရေးစီမံကိန်း (ကျောက်ဖြူ) Offshore Supply Base Port Project (kyauk Phyu)။

၅။ **စီမံကိန်းတည်နေရာ**

(က) **မြေပုံညွှန်း။** ရခိုင်ပြည်နယ် ကျောက်ဖြူခရိုင် ကျောက်ဖြူမြို့နယ် မဒေးကျွန်း ခန့်မှန်း UTM မြေပုံညွှန်း (ES-708424, ES-715422) (Lat 19° 23′, Long 93° 41′) တွင် ဆောင်ရွက်ရန် ရွေးချယ်ထားပါသည်။ စီမံကိန်းတည်နေရာသည် မဒေးကျွန်း ရေနံတင်ဆိပ်ကမ်း ( Crude Oil Wharf ) နေရာနှင့်လည်းကောင်း၊ ကျောက်ဖြူအထူးစီးပွားရေးဇုန် ( Kyauk Phyu Special Economic Zone) နေရာနှင့်လည်းကောင်း ကင်းလွတ်မှုရှိပါသည်။ နောက်ဆက်တွဲ (ခ-၁) မှ (ခ-၅)။

(ခ) **စီမံကိန်းတည်နေရာသို့ သွားရောက်နိုင်သောလမ်းကြောင်းများ။** အောက်ပါအတိုင်းသွားရောက်နိုင်ပါသည်-

(၁) **လေကြောင်း။** ရန်ကုန်မြို့မှ ကျောက်ဖြူမြို့သို့ တစ်ပတ်လျှင် လေကြောင်းခရီးစဉ် (၆) ရက်ခန့် ရှိပါသည်။

(၂) **ရေကြောင်း။** ကျောက်ဖြူမြို့မှ မဒေးကျွန်းသို့ သံဇစ်မြစ်အတိုင်း ရေမိုင် (၈)မိုင် ခန့်ကို ရေယာဉ်ဖြင့် သွားလာနိုင်ပါသည်။

(၃) **အနီးဆုံးဆိပ်ကမ်း။** လက်ရှိအခြေအနေတွင် ကျောက်ဖြူမြို့ လေပွေ့ဆိပ်ကမ်း တစ်ခုသာရှိပါသည်။ ၎င်းဆိပ်ကမ်းမှာ စီမံကိန်းလုပ်ငန်းများအတွက် အသုံးပြုရန် မသင့်ပါသဖြင့် Offshore Supply Base Port တည်ဆောက်ချိန်တွင် သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ ခွင့်ပြုချက်တောင်းခံပြီး ကိုယ်ပိုင်ဆိပ်ကမ်းတည်ဆောက်၍ အသုံးပြုပါမည်။

(၄) **စီမံကိန်းတည်နေရာမှ ခရီးအကွာအဝေး**

(ကက) ကျောက်ဖြူမြို့သို့ ရေလမ်းဖြင့် (၈) မိုင်။

( ခခ ) ကျောက်ဖြူမြို့မှ စစ်တွေမြို့သို့ မော်တော်ကားလမ်းဖြင့် (၃၅၁) မိုင်၊ ရေကြောင်းခရီးဖြင့် (၆၈) မိုင်ခန့်။

( ဂဂ ) ကျောက်ဖြူမြို့မှ ရန်ကုန်မြို့သို့ မော်တော်ကားလမ်းဖြင့် (၄၀၀) မိုင်ခန့်၊ ရေကြောင်းခရီးဖြင့် (၄၁၂) မိုင်ခန့်။

(ဃဃ) ကျောက်ဖြူမြို့မှ နေပြည်တော်သို့ မော်တော်ကားလမ်းဖြင့် (ပြည်မြို့) မှတဆင့် (၄၉၆) မိုင်။

( ငင ) ကျောက်ဖြူမြို့မှ ရန်ကုန်မြို့သို့ လေယာဉ်ဖြင့် (၁း၀၅) မိနစ်ခန့်။

**စီမံကိန်းဆိုင်ရာအချက်အလက်များ (Project Data)**

၆။ **စီမံကိန်းတွင်ပါဝင်မည့် အဆောက်အအုံ၊ ဝန်ဆောင်မှုနှင့် ပစ္စည်းအသုံးအဆောင်များ ( Facilities Of Offshore Supply Base Port)။** အောက်ပါတို့ကို နိုင်ငံတကာအဆင့်မီတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ပါမည်-

(က) ရေနံတွင်းတူးပိုက်များထားရန်နေရာ (Pipe yards) ။

( ခ) လောင်စာဆီ၊ စက်ဆီ၊ ချောဆီနှင့် သောက်ရေသန့်သိုလှောင်ကန်များ (Fuel Oil, Lubricant Oil & Fresh Water Tanks) ။

( ဂ) စက်မှုအလုပ်ရုံ (Mechanical Workshops) ။

(ဃ) ရေနံတွင်းသုံးဘိလပ်မြေသိုလှောင်ရုံ (Oil Well Cement Bulk Plant) ။

( င) ရေနံတွင်းသုံး ကျောက်မှုန့်သိုလှောင်ရုံ (Barite Bulk Plant) ။

( စ) ရေနံတွင်းသုံး ရွှံ့စေးနှင့် အားဖြည့်ပစ္စည်းထောက်ပံ့ရေးဌာန (Mud Plant and Additive supply) ။

(ဆ) ရေနံတွင်းတူးလုပ်ငန်းသုံး သံထည်ပစ္စည်းများ အရည်အသွေးစစ်ဆေးခြင်း (Nondestructive Tests (NDT) Inspection) ။

( ဇ) စွန့်ပစ်ပစ္စည်းများဆိုင်ရာ စီမံခန့်ခွဲမှုဌာန (Waste Management) ။

( ဈ) မီးသတ်ဌာန (Fire-fighting Equipment Facilities) ။

(ည) လျှပ်စစ်ဓာတ်အားပေးစက်ရုံ (Electricity generation) ။

( ဋ) ရုံးအဆောက်အဦးများ (Office buildings) ။

( ဌ) လေ့ကျင့်ရေးဌာန (Training Facilities) ။

( ဍ) ပစ္စည်းသိုလှောင်ရုံများ (Warehouses Facility) ။

( ဎ) ကွင်းပြင်သိုလှောင်ရန် နေရာများ (Open Spaces Facility) ။

(ဏ) ထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း (Logistics Facility) ။

(တ) ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာဆိုင်ရာဌာန(Telecommunication and IT office) ။

(ထ) ပုံစံရေးဆွဲထုတ်လုပ်ရေး လုပ်ငန်းများအတွက်နေရာ (Space for Fabrication) ။

( ဒ) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ (Construction Materials) ။

၇။ **စီမံကိန်းမှဆောင်ရွက်မည့်လုပ်ငန်းများ။** အောက်ပါလုပ်ငန်းများကို ဆောင်ရွက်နိုင်ရန်စီစဉ်ထား ရှိပါသည်-

(က) ထောက်ပံ့ရေးသင်္ဘောများအတွက် ဆိပ်ကမ်းအသုံးပြုခွင့်နှင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း။

( ခ) ရေနံတွင်းတူးပိုက်များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

( ဂ) စက်သုံးဆီ၊ စက်ဆီ၊ ချောဆီများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

(ဃ) သန့်စင်ပြီးရေများ ရောင်းချပေးခြင်း။

( င) ရေနံတွင်းတူးစင်များမှအပ်နှံသော ပြုပြင်ရန်လိုအပ်သည့် စက်ပစ္စည်းများကို စက်မှု အလုပ်ရုံတွင် ပြင်ဆင်ပေးခြင်း။

( စ) ရေနံတွင်းသုံးဘိလပ်မြေများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

(ဆ) ရေနံတွင်းသုံးကျောက်မှုန့်များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

( ဇ) ရေနံတွင်းတူး ရွှံ့နှင့် အားဖြည့်ပစ္စည်း (Additives) များ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

( ဈ) ရေနံတွင်းတူးလုပ်ငန်းသုံး သံထည်ပစ္စည်းများ အရည်အသွေးစစ်ဆေးခြင်း။

(ည) ကမ်းလွန်ရေနံတွင်းတူးစင်များမှ သယ်ဆောင်လာသော စွန့်ပစ်ပစ္စည်းများကို စနစ်တကျ ရှင်းလင်းပေးခြင်း။

( ဋ) အရေးပေါ်မီးငြိမ်းသတ်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း။

( ဌ) စီမံကိန်းလုပ်ငန်းဆိုင်ရာ ကျွမ်းကျင်မှုသင်တန်းများ ဖွင့်လှစ်လေ့ကျင့်ပေးခြင်း။

( ဍ) တွင်းတူးပစ္စည်း၊ ထုတ်လုပ်ရေးပစ္စည်း၊ စက်အရံပစ္စည်းများကို ပစ္စည်းသိုလှောင်ရုံများ ဖြင့် စနစ်တကျထိန်းသိမ်းပေးခြင်း။

(ဃ) ပြင်ပကွင်းပြင်တွင် ထားရှိနိုင်သောပစ္စည်းများကို စနစ်တကျလက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

(ဏ) ထောက်ပံ့ရေးပစ္စည်းများ လက်ခံထိန်းသိမ်းခြင်း၊ ပြန်လည်ထုတ်ပေးခြင်း။

(တ) ကမ်းလွန်ရေနံတွင်းတူးစင် Platform များမှ Fabrication ပြုလုပ်ပေးရန် အပ်နှံသောလုပ်ငန်းများကို ပုံစံရေးဆွဲပြီး Fabrication ပြုလုပ်၍ ဝန်ဆောင်မှုပေးခြင်း။

၈။ **စီမံကိန်းတည်ဆောက်နိုင်ရန်အတွက် အထောက်အကူပြုနိုင်သော အချက်အလက်များ။** အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **စီမံကိန်းခန့်မှန်းတည်နေရာနှင့် အသုံးပြုရန်လိုအပ်ချက်သင့်တော်မှု (Estimated Location & Accessibility)။** စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရန် အဆိုပြုတင်ပြသော ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းနေရာတွင် သဘာဝအတိုင်းရေအနက် (၂၇) မီတာခန့်ရှိပါသည်။ ဘင်္ဂလားပင်လယ်အော်မှ ဝင်ရောက်လာမည့် ရေလမ်းကြောင်းတစ်လျှောက် Dredging ပြုလုပ်ပြီး ရေအနက်(၂၂) မီတာခန့် ရှိပါသည်။ ပင်လယ်ဝမှ စီမံကိန်းတည်နေရာသို့ ရေမိုင် (၈) မိုင် ခန့်သာဝင်ရပြီး၊ ကျောက်ဖြူမြို့၏အရှေ့ဘက် သံဇစ်မြစ်အတွင်းပိုင်းဖြစ်သောကြောင့် သဘာဝဘေးအန္တရာယ်များအတွက် အကာအကွယ်ရရှိထားပြီးသော နေရာဖြစ်ပါသည်။ သို့ဖြစ်၍ ( Offshore Supply Base Port ) တည်ဆောက်ရန် သင့်တော်သောနေရာဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) **မြေရရှိနိုင်မှု (Availability of Land)။** ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းနယ်မြေတွင် စီမံကိန်းတည်ဆောက်နိုင်ရန်အတွက် လယ်မြေ (၄၄.၈၄) ဧက၊ ဥယျာဉ်ခြံမြေ (၁၀၁.၈၆)ဧက၊ စုစုပေါင်း (၁၄၆.၇) ဧက ဝယ်ယူထားခဲ့ပြီးဖြစ်ပါသည်။ ယင်းဝယ်ယူထားပြီးမြေ (၁၄၆.၇) ဧကအား လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုခွင့် လျှောက်ထားနိုင်ရန်အတွက် မြေပုံကူးယူခွင့်တင်ပြခဲ့ရာ မြေစာရင်းပုံစံ (၁၀၅) ကူးယူရရှိပြီးဖြစ်ပါသည်။ ယခုအခါတွင် လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုခွင့် လုပ်ငန်းစတွဲများကို လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်လျက် ရှိပါသည်။ မြေစာရင်းပုံစံ (၁၀၅) များကို နောက်ဆက်တွဲ ( ဂ )ဖြင့် တင်ပြအပ်ပါသည်။

(ဂ) **ဆိပ်ကမ်း (Jetty)** ။ Offshore Supply Base Port စီမံကိန်းတည်ဆောက်ရာတွင် ကမ်းလွန်ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်းတွင်းတူးစင်များမှ Supply Boat များ ဘေးကင်းလုံခြုံစွာဖြင့်ကမ်းကပ်၍ အဆင်ပြေနိုင်မည့် ( Jetty ) သင်္ဘောဆိပ်ကမ်းကို အဓိကထား၍ တည်ဆောက်ရမည်ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် သင်္ဘောကြီးများ၊ Supply Boat များကမ်းကပ်၍ အဆင်ပြေနိုင်မည့်(Jetty)သင်္ဘောဆိပ်ကမ်းကို ပြည်ပမှ နိုင်ငံတကာအသိအမှတ်ပြုလက်မှတ်ရရှိပြီး နာမည်ကောင်းရှိသောကုမ္ပဏီထံသို့ လုပ်ငန်းအပ်နှံ၍ တည်ဆောက်မည်ဖြစ်ပါသည်။

## ၉။ စီမံကိန်းတည်ဆောက်ရေးကာလ (အဆိုပြု)

(က) Offshore Supply Base Port Project (Kyauk Phyu) အတွက် ခန့်မှန်းစီမံကိန်း တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ကာလ |
|---|---|---|
| ၁။ | အခြေခံစီမံကိန်းလုပ်ငန်းများ<br>(Architectural Plan) | ၁ - လ |
| ၂။ | စီမံကိန်းပုံစံထုတ်လုပ်ခြင်းနှင့် အသေးစိတ်ပုံစံထုတ်လုပ်ခြင်း<br>(Basic Design & Detailed Design) | ၄ - လ |
| ၃။ | တည်ဆောက်ရေးလုပ်ငန်းများ ( ဆိပ်ကမ်းအဆင့် (၁) ၊ လျှပ်စစ်လုပ်ငန်းများ၊ ရုံး၊ သိုလှောင်ရုံ၊ အဆောက်အဦးနှင့် ရေနံပိုက်များထားရန်နေရာများ)<br>Civil works ( Jetty Phase - 1, Electrical works, Road, Office, Warehouse & Pipe yards ) | ၆ - လ |
| ၄။ | ရေသိုလှောင်ကန်၊ ရေတင်စက်၊ ရေသန့်စင်စက်ရုံ၊ မီးဘေးကာကွယ်ရေး၊ အိုင်တီ နှင့် ဆက်သွယ်ရေး<br>( Water Tank, Pump, Water treatment Plant , Fire Protection, IT & Communication ) | ၅ - လ |
| ၅။ | လောင်စာဆီသိုလှောင်ကန်များ၊ ဆိပ်ကမ်းအဆင့် (၂) ၊ ရဟတ်ယာဉ်ကွင်း<br>(Oil Storage Tank, Jetty phase - 2 & Heliport ) | ၄ - လ |
| ၆။ | ဘိလပ်မြေဆိုင်လို၊ ကျောက်မှုန့်ဆိုင်လို၊ ဓါတုဗေဒသိုလှောင်ရုံ နှင့် စက်မှုအလုပ်ရုံ တည်ဆောက်ရေးလုပ်ငန်းများ<br>(Cement Silo, Barite Silo, Chemical Storage & Mechanical Workshop ) | ၄ - လ |
| | **စုစုပေါင်း တည်ဆောက်ရေးကာလ** | ၂၄ - လ |

(ခ) အထက်ပါလုပ်ငန်းများအတွက် တစ်ချိန်တည်း၊ တစ်ပြိုင်တည်းဆောင်ရွက်နိုင်ရန် စီစဉ်ထားသဖြင့် ခန့်မှန်းစီမံကိန်းကာလ ( ၂၄ )လအတွင်း ပြီးစီးပါမည်။

၁၀။ **စီမံကိန်းအကွက်ချပုံစံ(ယာယီ) Offshore Supply Base Port Project, Layout Plan (Provisional)။** ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းတွင် တည်ဆောက်မည့် ကမ်းလွန်ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေရေး လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်ရေးစီမံကိန်း (ကျောက်ဖြူ) Offshore Supply Base Port Project (Kyauk Phyu)၏ အကွက်ချပုံစံ(ယာယီ) (Provisional)ကို နောက်ဆက်တွဲ (ဃ)ဖြင့် တင်ပြအပ်ပါသည်။ စီမံကိန်းဆောင်ရွက်ခွင့်ရရှိပြီးချိန်တွင် Offshore Supply Base Port ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များဖြင့် အသေးစိတ်ဒီဇိုင်းရေးဆွဲဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထိုကဲ့သို့ (Detail Design) ရရှိပြီးချိန်တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများသို့ ထပ်မံ၍တင်ပြသွားပါမည်။

**စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်ကုမ္ပဏီများ (Companies To Implement The Project)**

၁၁။ **Myanmar Chemical & Machinery Co., Ltd။** ကုမ္ပဏီ၏နောက်ခံအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **ကုမ္ပဏီရုံးခန်း။** အောက်ပါအတိုင်း ဖွင့်လှစ်ထားပါသည်-

(၁) အမှတ်(၂၀/၂၁)၊ သုခဝတီလမ်း၊ (၆) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၂) အမှတ်(၁၁၂၀/၁၁၂၁)၊ (၁၆/၄) ရပ်ကွက်၊ သုမင်္ဂလာလမ်း၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ခ) **ကုမ္ပဏီခွဲများ ။** Myanmar Chemical & Machinery Co., Ltd. ၏ ကုမ္ပဏီခွဲများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) Myanmar Chemical & Machinery Company Limited

(၂) MCM Energy Company Limited

(၃) Myanmar Cement & Mineral Production Company Limited

(၄) Myanmar Forever Construction Company Limited

(၅) Perpetual Power Solution Company Limited

(၆) United Mega Automobile Company Limited

(၇) MCM Rubber Company Limited

(၈) MCM Pacific Pte Limited- Singapore

(၉) Myanmar Nwe Food & Beverages Company Limited

(ဂ) **ကုမ္ပဏီမှဆောင်ရွက်နေသောလုပ်ငန်းများ။** Myanmar Chemical & Machinery Co., Ltd. မှ ဆောင်ရွက်လျက်ရှိသော လုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) နိုင်ငံတော်အစိုးရ၊ ဝန်ကြီးဌာနများအတွက် လိုအပ်သော အကြီးစားစက်ပစ္စည်းများနှင့် စက်အရံပစ္စည်းများကိုပြည်ပမှ မှာယူတင်သွင်းခြင်း။

(၂) ဝန်ကြီးဌာနများအတွက် အဆင့်မြင့်နည်းပညာရပ်ဆိုင်ရာ အဆောက်အဦး များဆောက်လုပ်ခြင်း။

(၃) နိုင်ငံတော်အစိုးရ၊ ဝန်ကြီးဌာနများအတွက် မော်တော်ယာဉ်နှင့် လေယာဉ်အပို ပစ္စည်းများ မှာယူတင်သွင်းခြင်း။

(၄) Steel Billet များ၊ Steel Scrap များ၊ Deformed Bar ၊ Wire Rod ၊ CRC ၊ PPGI/ PPGL စသည့် သံနှင့်သံမဏိထုတ်ကုန်ပစ္စည်းများ၊ Water Treatment Chemicals များကို ပြည်ပမှ မှာယူတင်သွင်း၊ ဖြန့်ဖြူးရောင်းချခြင်း။

(၅) နိုင်ငံတော်၏လိုအပ်ချက်ဖြစ်သော ဘိလပ်မြေများကို ပြည်တွင်း၌ တစ်ရက် လျှင် တန်ချိန်(၁၀၀၀၀)ကျ ဘိလပ်မြေစက်ရုံ တည်ဆောက်ရေး ထုတ်လုပ် ဖြန့်ဖြူးနိုင်ရေး အဆိုပြုတင်ပြဆောင်ရွက်ခြင်း။

(၆) ပြည်ပသို့ ဆန်တင်ပို့ရောင်းချခြင်း၊ စားအုန်းဆီများကို ပြည်ပမှ မှာယူတင်သွင်းခြင်း။

(၇) စွမ်းအင်ဝန်ကြီးဌာနအတွက် လိုအပ်သော အလတ်စားရေနံတွင်းတူးစက် Drilling Rig များမှာ ယူတင်သွင်းခြင်း။

(၈) စက်မှုကုန်ကြမ်းသီးနှံ၊ ရာဘာခြံများ (၆၀၀၀) ဧကခန့် စိုက်ပျိုးခြင်း၊ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း။

(၉) အနာဂတ်ရည်မှန်းချက် စီမံကိန်းများအဖြစ် အဆင့်မြင့်အိမ်ရာများ ဆောက်လုပ် ခြင်း၊ စိုက်ပျိုးရေး၊ သတ္တု၊ စွမ်းအင်နှင့် လျှပ်စစ်ကဏ္ဍများတွင် ရင်းနှီးမြှုပ်နှံခြင်း။

(၁၀) 300MW Rental Power Generation Project (Yangon), ရန်ကုန်မြို့၊ ရန်ကုန်တိုင်းဒေသကြီး။

(၁၁) 70MW IPP Project, ရွှေတောင်မြို့၊ ပဲခူးတိုင်းဒေသကြီး။

(၁၂) 255MW CCPP, Metering Skid Project တောင်သာမြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီး။

(၁၃) Steam Turbine နှင့် Generator များ အကြီးစားပြုပြင်ခြင်းလုပ်ငန်း၊ လှော်ကား သဘာဝဓါတ်ငွေ့သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံ၊ ရန်ကုန်တိုင်းဒေသကြီး။

၁၂။ **ပြည်ပကုမ္ပဏီ**။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီမံကိန်းကို အကောင်အထည်ဖေါ်တည်ဆောက်သွားမည်ဖြစ်ပါသည်။ သို့ရာတွင် ဒီဇိုင်းရေးဆွဲခြင်းနှင့် စီမံကိန်းတည် ဆောက်ခြင်းလုပ်ငန်းများအတွက် Offshore Supply Base Port လုပ်ငန်းအတွေ့အကြုံ ရင့်ကျက်ပြီး ရေနံနှင့်သဘာဝဓါတ်ငွေ့ရှာဖွေ/တူးဖေါ်/ ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်နေသော နိုင်ငံခြားကုမ္ပဏီ များက ယုံကြည်/ လက်ခံမည့် ခိုင်မာသော နိုင်ငံခြားကုမ္ပဏီများကို ငှားရမ်း၍ တည်ဆောက်ပါမည်။ စီမံကိန်း တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးချိန်နောက်ပိုင်း စီးပွားဖြစ်လုပ်ငန်းဆောင်ရွက်မှု (Commercial Operation) ကို နိုင်ငံခြားသားပညာရှင် (၅) ဦးနှင့် ပြည်တွင်းရှိ အင်ဂျင်နီယာများ၊ ဝန်ထမ်းများက တာဝန် ယူဆောင်ရွက်ရန် စီစဉ်ထားရှိပါသည်။

**စီမံကိန်းတန်ဖိုးနှင့် ဘဏ္ဍာရေးဆိုင်ရာတာဝန်ယူမှု (Project Cost & Financial Assumption)**

၁၃။ Myanmar Chemical & Machinery Company Limited မှ အဆိုပြုတင်ပြသော ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့ရှာဖွေရေးလုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း(ကျောက်ဖြူ) တည်ဆောက်ရေးစီမံကိန်း Offshore Supply Base Port Project (Kyauk Phyu) အတွက် (100) Million USD ခန့် စတင်၍ ရင်းနှီးမြှုပ်နှံရန် စီစဉ်ထားရှိပါသည်။

**စီမံကိန်းကြောင့်ရရှိလာမည့် အကျိုးကျေးဇူးများ (Benefits of the Project)**

၁၄။ **အကျိုးကျေးဇူးများ။** စီမံကိန်းလုပ်ငန်းတည်ဆောက်နိုင်ပါက အောက်ပါအတိုင်း အကျိုးကျေးဇူးများရရှိမည်ဖြစ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းများမှ ရရှိလာမည့် အမြတ်ငွေများမှ နိုင်ငံတော်အစိုးရ၏ သတ်မှတ်ထားသော အခွန်အခဘဏ္ဍာငွေများကို နှစ်စဉ်နိုင်ငံတော်သို့ ပေးသွင်းခြင်း။

(ခ) နိုင်ငံတော်သို့ အခွန်အခများပေးသွင်းပြီး ကျန်ရှိသော အသားတင်အမြတ်ငွေမှ (၂) ရာခိုင်နှုန်းကို ရခိုင်ပြည်နယ်တစ်ခုလုံးအတွက် လိုအပ်သည့် ပညာရေး၊ ကျန်းမာရေး၊ လူမှုရေးကဏ္ဍများတွင် အသုံးပြုသွားနိုင်ရန် (လူမှုအကျိုးပြုလုပ်ငန်း CSR တွင်) ထည့်သွင်းပေးခြင်း။

(ဂ) ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်မှုကိုခံယူ၍ ပြည်နယ်အတွင်း ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများကို သတ်မှတ်ရာခိုင်နှုန်းအတွင်းမှ ဆောင်ရွက်ပေးခြင်း။

(ဃ) ရခိုင်ပြည်နယ်၏ ဖွံ့ဖြိုးတိုးတက်မှု မြင့်မားလာနိုင်ခြင်း။

(င) စီမံကိန်းနယ်မြေအတွင်း ဒေသခံပြည်သူလူထုနှင့် တွေ့ဆုံညှိနှိုင်း၍ အမှန်တကယ်လိုအပ်ချက်များကို ဒေသဖွံ့ဖြိုးရေးအတွက် ဆောင်ရွက်ပေးနိုင်ခြင်း။

(စ) စီမံကိန်းတည်ဆောက်ရေးကာလတွင် လုပ်ငန်းအသီးသီးအတွက် ဆောက်လုပ်ရေး ဝန်ထမ်းအင်အား (၅၀၀)ခန့် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်ခြင်း။

(ဆ) စီမံကိန်းပြီးစီးချိန်တွင် နိုင်ငံခြားသားပညာရှင် (၅)ဦးနှင့် ဒေသခံဝန်ထမ်း(၁၃၅)ဦး တာဝန်ပေးခန့်အပ်ပေးနိုင်ခြင်း။

(ဇ) ထိုကဲ့သို့ ဒေသခံဝန်ထမ်းခန့်အပ်ရာတွင် ရခိုင်ပြည်နယ်အတွင်းမှ ပညာအရည်အချင်းနှင့်ကိုက်ညီသူများကို ရွေးချယ်ခန့်အပ်ခြင်း။

(ဈ) ရခိုင်ပြည်နယ်အတွင်းမှ ပညာအရည်အချင်းကိုက်ညီသည့် ဝန်ထမ်းမရရှိမှသာလျှင် ပြည်မမှ ခေါ်ယူခန့်အပ်ရန် စီစဉ်ထားခြင်း။

၁၅။ **လူမှုရေးအကျိုးပြုလုပ်ငန်းဆောင်ရွက်မှု (CSR) ရာခိုင်နှုန်း။** Myanmar Chemical & Machinery Co., Ltd. မှ လူမှုရေးအကျိုးပြုလုပ်ငန်းဆောင်ရွက်နိုင်မှု (CSR) ရာခိုင်နှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) နှစ်စဉ်ရရှိသော အသားတင်အမြတ်ငွေ၏ (၂)% သတ်မှတ်ထားပါသည်။

MCM

(ခ) ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ လမ်းညွှန်ကြီးကြပ်မှုဖြင့် ဒေသခံပြည်သူလူထုအတွက်အမှန်တကယ်လိုအပ်နေသော လူမှုရေး အကျိုးပြုလုပ်ငန်းများ ဆောင်ရွက်ပေးပါမည်။

၁၆။ **ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ပေးမည့် အစီအစဉ်။** Myanmar Chemical & Machinery Company Limited မှ ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ပေးမည့်အစီအစဉ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းများမှ နှစ်စဉ်ရရှိလာသော အကျိုးအမြတ်များမှ နိုင်ငံတော်အစိုးရ၏ သတ်မှတ်ထားသော အခွန်အခဘဏ္ဍာငွေများ နိုင်ငံတော်သို့ ပေးသွင်းခြင်း။

(ခ) ကျန်ရှိသော အကျိုးအမြတ်ထဲမှ (၂) ရာခိုင်နှုန်းကို ရခိုင်ပြည်နယ်တစ်ခုလုံးအတွက် လိုအပ်မည့် ပညာရေး၊ ကျန်းမာရေး၊ လူမှုရေးကဏ္ဍများတွင် အသုံးပြုသွားနိုင်ရန် ဆောင်ရွက်ခြင်း။

(ဂ) ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်မှုကို ခံယူ၍ ပြည်နယ်အတွင်း ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများကို သတ်မှတ်ရာခိုင်နှုန်းအတွင်းမှ ဆောင်ရွက်ပေးခြင်း။

(ဃ) ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ပေးရာတွင် စီမံကိန်းနယ်မြေအတွင်း ဒေသခံပြည်သူလူထုနှင့်တွေ့ဆုံညှိနှိုင်း၍ အမှန်တကယ်လိုအပ်ချက်များကို ဆောင်ရွက်ပေးခြင်း။

၁၇။ **ဝန်ထမ်းများ ခန့်အပ်မည့်အစီအစဉ်။** အောက်ပါအတိုင်း ဆောင်ရွက်ပါမည်-

(က) **စီမံကိန်းတည်ဆောက်ရေးကာလ။** ဆောက်လုပ်ရေးလုပ်သားအင်အား (၅၀၀) ဦးခန့်။ (သက်ဆိုင်ရာကုမ္ပဏီများ၏ အစီအစဉ်)

(ခ) **စီမံကိန်း Phase-1 ပြီးစီးချိန်။** နိုင်ငံခြားသားပညာရှင်(၅)ဦးနှင့် ဒေသခံဝန်ထမ်း(၇၃) ဦးခန့်။

(ဂ) **စီမံကိန်း Phase-2 ပြီးစီးချိန်။** နိုင်ငံခြားသားပညာရှင်(၅)ဦးနှင့် ဒေသခံဝန်ထမ်း(၁၃၅)ဦးခန့်။

၁၈။ **ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်။** Myanmar Chemical & Machinery Co., Ltd မှ ဆောင်ရွက်ပေးမည့်ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စီမံကိန်းတွင် တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများကို သင့်တင့်သော လစာနှုန်း ထားသတ်မှတ်ပေးထားပြီး နှစ်ပတ်လည်ချီးမြှင့်ငွေများ (Bonus) ထုတ်ပေးခြင်း။

(ခ) ဝန်ထမ်းများအတွက် ရာထူးအဆင့်အလိုက်ဝတ်စုံများ ချုပ်ပေးခြင်း။

(ဂ) ဒေသခံမဟုတ်သော ဝန်ထမ်းများအတွက် ဝန်ထမ်းအိမ်ရာများ၊ လိုင်းခန်းများ ဆောက်လုပ်၍ စည်းကမ်းချက်များနှင့်အညီ နေထိုင်ခွင့်ပေးခြင်း။

(ဃ) ဒေသခံဝန်ထမ်းများအတွက် လုပ်ငန်းခွင်သို့ ဝင်ရောက်နိုင်ရန် မော်တော်ယာဉ်၊ ရေယာဉ်များဖြင့် အကြိုအပို့ စီစဉ်ပေးခြင်း။

(င) စီမံကိန်းတွင် တာဝန်ထမ်းဆောင်မည့် အမြဲတမ်းဝန်ထမ်းများနှင့် စီမံကိန်းတည်ဆောက်ရေးကာလ ယာယီဝန်ထမ်းများအတွက် အဆင့်ခွဲခြားသတ်မှတ်၍ ထိုက်သင့်သော ကျန်းမာရေးစောင့်ရှောက်မှုစီမံပေးခြင်း။

(စ) စီမံကိန်းလုပ်ငန်းခွင် ဝန်ထမ်းအိမ်ရာတွင် နေထိုင်၍ တာဝန်ထမ်းဆောင်နေသော အမြဲတမ်းဝန်ထမ်းများ၏ သားသမီးများအတွက် နီးစပ်ရာကျောင်းများတွင် ပညာသင်ကြားနိုင်ရေးစီမံပေးခြင်း၊ ပညာသင်ထောက်ပံ့ကြေးများပေးအပ်ခြင်း။

(ဆ) စီမံကိန်းတွင် ထမ်းဆောင်မည့် အမြဲတမ်းဝန်ထမ်းများအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံ့ဝန်ထမ်းဥပဒေပါအတိုင်း ခံစားခွင့်ဆောင်ရွက်ပေးခြင်း။

၁၉။ **ဒေသတွင်းရှိ ရေနံနှင့် သဘာဝဓါတ်ငွေ့ဆိုင်ရာ စီးပွားရေးလုပ်ငန်းများအပေါ် ပါဝင်ဆောင်ရွက်နိုင်မည့်အလားအလာ။**

(က) မိမိနိုင်ငံရေပိုင်နက်(ကမ်းနီး/ကမ်းဝေး) ဒေသများအတွင်းရှိ ရေနံနှင့်သဘာဝဓါတ်ငွေ့ ရှာဖွေ/ တူးဖော်/ ထုတ်လုပ်ရေးလုပ်ငန်းများအတွက် ထောက်ပံ့ပေးမည့်အပြင် တောင်အာရှဒေသနှင့် အရှေ့အလယ်ပိုင်းဒေသရှိ လုပ်ငန်းများအတွက်ပါ ပံ့ပိုးဆောင်ရွက်ပေးနိုင်မည်ဖြစ်ပါသည်။

(ခ) မိမိတို့ စီမံကိန်းတည်နေရာ၏ အချက်အခြာကျမှု၊ မြေနေရာကျယ်ဝန်းမှု၊ အဝင်အထွက် ရေလမ်းကြောင်းနှင့် ရေနက်ဆိပ်ကမ်းအင်္ဂါရပ်များ ပြည့်စုံကောင်းမွန်မှုတို့ကြောင့် ရေနံနှင့် သဘာဝဓါတ်ငွေ့ရှာဖွေ/တူးဖော်/ထုတ်လုပ်ရေးလုပ်ငန်းများတွင် အသုံးပြုမည့် တွင်းကာပိုက်များ၊ ရေနံတွင်းသုံးဘိလပ်မြေ၊ ကျောက်မှုန့်နှင့် ဓါတုဗေဒပစ္စည်းများ၊ တူးဖော်ရေးဆိုင်ရာစက်ကိရိယာများ စသည်တို့ကို ပင်မထုတ်လုပ်သည့်ကုမ္ပဏီကြီးများထံမှ သင်္ဘောကြီးများဖြင့် သယ်ယူ/ လက်ခံ/ သိုလှောင်ထားပြီး လုပ်ငန်းလိုအပ်ချက်အရ မှာယူသည့် တောင်အာရှဒေသနှင့် အရှေ့အလယ်ပိုင်းဒေသများရှိ Offshore Supply Base Port များထံသို့ သင်္ဘောများဖြင့် ထပ်ဆင့်တင်ပို့ပေးနိုင်မည်ဖြစ်ပါသည်။ (လက်ရှိစင်ကာပူနိုင်ငံ Loyang Offshore Supply Base Port မှ ဆောင်ရွက်နေသောပုံစံဖြစ်ပါသည်။)

**အန္တရာယ်ကာကွယ်ရေးဆိုင်ရာ ဆောင်ရွက်မည့်အစီအမံများ**

၂၀။ **သဘာဝပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအမံများ။**

Myanmar Chemical & Machinery Company Limited မှ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် ဆောင်ရွက်ပေးမည့်အစီအစဉ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ကန့်သတ်တားမြစ်ထားသည့်နေရာများကို ချန်လှပ်၍ တည်ဆောက်ခြင်း။

(ခ) သဘာဝမိုးရေများ ထိန်းသိမ်းသိုလှောင်ထားသည့်နေရာများနှင့် ရေရနိုင်သည့် အရင်းအမြစ်နေရာများကို သတ်မှတ်ကာ ကန့်သတ်ထိန်းသိမ်းထားခြင်း။

(ဂ) သဘာဝအရင်းအမြစ်နေရာများ၊ သဘာဝရှုခင်းနေရာကောင်းများဖြစ်သော ပင်လယ်ကမ်းခြေများ၊ ရှုခင်းမြင်ကွင်းကောင်းသောနေရာများကို ချန်လှပ်ထိန်းသိမ်းထားခြင်း။

(ဃ) မြေပြိုမှု၊ ရေကြီးနစ်မြုပ်မှုများမှ ရှောင်ရှားနိုင်ရန်အတွက် သင့်တော်သော မြေနေရာများကို ရွေးချယ်တည်ဆောက်ခြင်း။

( င)  ကျေးရွာများ၊ သာသနိကအဆောက်အဦးနေရာများ၊ သုသာန်မြေနေရာများ စသည်တို့ကို ချန်လှပ်ထားရှိပြီး လွတ်ကင်းသော နေရာများကိုသာရွေးချယ်တည်ဆောက်ခြင်း။

( စ)  စီမံကိန်းလုပ်ငန်းများအတွက် မြေပြုပြင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ပြီးစီးပါက သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် သစ်ပင်များစိုက်ပျိုးခြင်း။ လိုအပ်သော နေရာများတွင် မွေးမြူထားသော မြက်များဖြင့် ပြန်လည်ဖြည့်တင်းခြင်း။

(ဆ)  စီမံကိန်းလုပ်ငန်းခွင်အတွင်း လုပ်ငန်းများဆောင်ရွက်စဉ် ဖုန်မှုန့်များ၊ ပြာမှုန့်များ လွင့်စင်မှု မရှိစေရေးအတွက် မိုးကာ၊ အကာအရံများအုပ်၍ ဆောင်ရွက်ခြင်း။ ရေဖြန်းသောစနစ်ကျင့်သုံး၍ ဆောင်ရွက်ခြင်း။

( ဇ)  ရေနံတွင်းမှ ထွက်ပေါ်လာသည့် Waste Chemical များကို သက်ဆိုင်ရာ သန့်စင်မည့် အလုပ်ရုံများသို့ လုံခြုံစွာ ပို့ဆောင်ရန် စီစဉ်ထားရှိခြင်း။

( ဈ)  တည်ဆောက်မည့်စီမံကိန်းဧရိယာအတွင်း အရိပ်ရလေကာပင်များ၊ စားသုံးသီးနှံပင်များ၊ အလှပန်းပင်များ စနစ်တကျ အကွက်ချ၍ စိုက်ပျိုးခြင်း။

(ည)  သောက်သုံးရေနှင့် သုံးစွဲပြီးသော ရေများအတွက် Water Treatment စနစ်တကျ ပြုလုပ်ခြင်း။

(ဋ)  စက်သုံးဆီ၊ ချောဆီများအပါအဝင် စီမံကိန်းလုပ်ငန်းတွင် အသုံးပြုသော ပစ္စည်းများအားလုံး ကုန်းတွင်းနှင့် ပင်လယ်ပြင်အတွင်း ယိုဖိတ်မှုမရှိစေရေး စီမံဆောင်ရွက်သွားပါမည်။ မတော်တဆယိုဖိတ်မှုရှိပါက နိုင်ငံတကာအဆင့်မှီ လုပ်ထုံးလုပ်နည်းများအတိုင်း အမြန်ဆောင်ရွက်သွားပါမည်။

(ဌ)  သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနစိတ်ဖွင့်လှစ်ပြီး လုပ်ငန်းများကို စနစ်တကျဆောင်ရွက်ခြင်း။

( ဍ)  စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် နိုင်ငံတကာစံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ခြင်း။

(ဎ)  Offshore Supply Base Port Project စီမံကိန်းသည် ဒေသခံပြည်သူလူထု၏ ကျန်းမာရေး၊ လူမှုရေးကိစ္စများကို တိုက်ရိုက်ထိခိုက်မှုမရှိနိုင်သောလုပ်ငန်းဖြစ်ပါသည်။ သို့ရာတွင် စီမံကိန်းလုပ်ငန်းများအားလုံးကို နိုင်ငံတကာအဆင့်မှီ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းများအတိုင်း ဆောင်ရွက်သွားပါမည်။

၂၁။  **မီးဘေးအန္တရာယ်ကာကွယ်ရေးအစီအမံများ။** Myanmar Chemical & Machinery Co., Ltd. မှ ဆောင်ရွက်မည့် မီးဘေးလုံခြုံရေး အစီအမံများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က)  Offshore Supply Base Port Project (Kyauk Phyu) နှင့် ပတ်ဝန်းကျင်ကျေးရွာများအား မီးဘေးလုံခြုံရေးနှင့် ကာကွယ်ရေးအတွက် မီးသတ်ဌာနနှင့် မီးသတ်ယာဉ်များကို Offshore Supply Base Port အတွင်း၌ အသင့်တည်ဆောက်ထားရှိခြင်း။

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 25/04/2017 | To Cash - Cheque Withdrawal by Cash 20000023 262,NAN HTWE KHAN - - - - - - | 20,000,000.00 | | 261,809,850.00 |
| 25/04/2017 | To Cash - Cheque Withdrawal by Cash 20000022 262,NAN HTWE KHAN - - - - - - | 50,000,000.00 | | 211,809,850.00 |
| 25/04/2017 | By Transfer - AUTO PAYMENT VOUCHER - - - BulkPayment\|ORG00011\|CLEARINGDELIVER(25.4.17)2\|KTL - - - - | | 300,000,000.00 | 511,809,850.00 |
| 25/04/2017 | To Transfer - GOV: STAMP DUTY FEE - - - - - - - | 200.00 | | 511,809,650.00 |
| 28/04/2017 | To Cash - Cheque Withdrawal by Cash 20000024 262,NAN HTWE KHAN - - - - - - | 100,000,000.00 | | 411,809,650.00 |
| 28/04/2017 | To Cash - Cheque Withdrawal by Cash 20000025 262,NAN HTWE KHAN - - - - - - | 80,000,000.00 | | 331,809,650.00 |
| 02/05/2017 | To Transfer - CHEQUE TRANSFER 01430201401913001 - 20000031 188,KYAW SEIN WIN - - - - - - | 4,000,000.00 | | 327,809,650.00 |
| 02/05/2017 | To Cash - Cheque Withdrawal by Cash 20000026 262,NAN HTWE KHAN - - - - - - | 50,000,000.00 | | 277,809,650.00 |
| 02/05/2017 | By Transfer - AUTO PAYMENT VOUCHER - - - BulkPayment\|ORG00011\|CLEARINGDELIVER(2.5.17)2\|KTL - - - - | | 300,000,000.00 | 577,809,650.00 |
| 03/05/2017 | To Cash - Cheque Withdrawal by Cash 20000032 262,DAW SAN SAN KHAING - - - - - - | 4,000,000.00 | | 573,809,650.00 |
| 05/05/2017 | To Cash - Cheque Withdrawal by Cash 20000027 262,NAN HTWE KHAN - - - - - - | 50,000,000.00 | | 523,809,650.00 |
| 08/05/2017 | By Transfer - A/C Transfer 02710206001799501 - YGN92,U AUNG HLAING OO AND DAW KHIN NWE MAR TUN,DAW KHIN NWE MAR TUN - - - - - - | | 200,000,000.00 | 723,809,650.00 |
| 08/05/2017 | By Cash - Deposit Cash transaction HENRY HEIN HTUT AUNG,0973150781 - - - - - - | | 150,000,000.00 | 873,809,650.00 |
| 09/05/2017 | By Cash - Deposit Cash transaction YGN-91,U CHIT KO KO MAUNG,09789368012 - - - - - - | | 100,000,000.00 | 973,809,650.00 |
| 09/05/2017 | Closing Balance | | | 973,809,650.00 |
| No. of Debit | : 30 | Debit Total | 2,376,200,300.00 | |
| No. of Credit | : 9 | Credit Total | | 2,350,000,000.00 |

Thank You For Banking With YGN92(MYANMAR CENTRE) BRANCH

Please report any discrepancies found on your statement immediately.

N.B – Statement will not be sent unless there is a change of transaction.

Asst: / DY Manager

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော
အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာ ဓါတုဗေဒ နှင့် စက်ပစ္စည်း ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

---

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM OF ASSOCIATTON

AND

ARTICLES OF ASSOCIATION

OF

# MYANMAR CHEMICAL & MACHINERY COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

မြန်မာ ဓါတုဗေဒ နှင့် စက်ပစ္စည်း **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

***OF***

MYANMAR CHEMICAL & MACHINERY **COMPANY LIMITED**

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ ဓါတုဗေဒ နှင့် စက်ပစ္စည်း **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း



၁။ **ကုမ္ပဏီ၏** အမည်သည် " မြန်မာ ဓါတုဗေဒ နှင့် စက်ပစ္စည်း **ကုမ္ပဏီ လီမိတက်** "ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၁၀၀၀၀၀၀၀၀၀ /-(ကျပ် သန်း တစ်ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀ /-(ကျပ် တစ်ထောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) အောက်ဖော်ပြပါ အစိုးရကခွင့်ပြုသော ကုန်ပစ္စည်းများနှင့် ထုတ်ကုန်များကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ သွင်းကုန်လုပ်ငန်းရှင်များ၊ ထုတ်ကုန်လုပ်ငန်းရှင်များ၊ လက်လီလက်ကားရောင်းချသူများ၏ ကူးသန်းရောင်းဝယ်ရေးဆိုင်ရာ လုပ်ငန်းများကိုလုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ၊

(ခ) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြှင့် သစ်အခြေခံကုန်ပစ္စည်းများ၊

(ဂ) တိရစ္ဆာန်ထွက်ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ၊

(ဃ) ရေထွက်ကုန်ပစ္စည်းများ၊

(င) ဓာတ်မြေဩဇာနှင့်ပိုးသတ်ဆေးများ၊

(စ) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ၊

(ဆ) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၊

(ဇ) အိမ်သုံးကုန်ပစ္စည်းများ၊

(ဈ) လူသုံးကုန်ပစ္စည်းများ

(ည) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့်သုတ်ဆေးများ၊

(ဋ) လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများ၊

(ဌ) ယာဉ်နှင့်စက်ကိရိယာနှင့်အပိုပစ္စည်းများ၊

(ဍ) ကိရိယာတန်ဆာပလာအမျိုးမျိုး၊

(ဎ) ဆေးနှင့်ဆေးပစ္စည်းများ၊

(ဏ) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ၊

(တ) အထည်အလိပ်နှင့် အဝတ်အထည်များ၊

(ထ) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ၊

(ဒ) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူပြုပစ္စည်းများ၊

(၂) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦး အောင်လှိုင်ဦး<br>အမှတ်-၁၁၂၀-၁၁၂၁၊<br>သုမင်္ဂလာလမ်း ၊ ၁၆/၄ ရပ်ကွက်၊<br>သဃ်္ဃန်းကျွန်း မြို့နယ်၊ ရန်ကုန်။<br>( ကုန်သည် ) | မြန်မာ<br>၁၂/လမတ(နိုင်)<br>၀၂၅၇၉၇ | ၁၀ | |
| ၂။ | ဒေါ်ခင်နွယ်မာထွန်း<br>အမှတ်-၁၁၂၀-၁၁၂၁၊<br>သုမင်္ဂလာလမ်း ၊ ၁၆/၄ ရပ်ကွက်၊<br>သဃ်္ဃန်းကျွန်း မြို့နယ်၊ ရန်ကုန်။<br>( ကုန်သည် ) | မြန်မာ<br>ဿကတန(နိုင်)<br>၀၀၂၆၉၇ | ၁၀ | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၀ ခုနှစ်၊ မေ လ၊ ၂၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

မြန်မာ ဓါတုဗေဒ နှင့် စက်ပစ္စည်း **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁၀၀၀၀၀၀၀၀၀၀ိ /-(ကျပ် သန်း တစ် ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ိ /-(ကျပ် တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၉ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) ဦး အောင်ကျိုင်ဦး
(၂) ဒေါ်ခင်နွယ်မဝတွန်း
(၃)
(၄)
(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (၁၀)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

### ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လုပ်မှုစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာချုပ်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦး အောင်ကျော်ဦး<br>အမှတ်-၁၁၂၀-၁၁၂၁၊<br>သုမင်္ဂလာလမ်း၊ ၁၆/၄ ရပ်ကွက်၊<br>သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်။<br>( ကုန်သည် ) | မြန်မာ<br>၁၂/လမတ(နိုင်)<br>၀၂၅၀၉၇ | | |
| ၂။ | ဒေါ်ခင်နှယ်မာထွန်း<br>အမှတ်-၁၁၂၀-၁၁၂၁၊<br>သုမင်္ဂလာထန်း၊ ၁၆/၄ ရပ်ကွက်၊<br>သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်။<br>( ကုန်သည် ) | မြန်မာ<br>၁၃/တတန(နိုင်)<br>၀၀၂၆၉၀ | | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၀ ခုနှစ်၊ မေ လ၊ ၂၄ ရက်။

**အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်၊**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

MYANMAR CHEMICAL & MACHINERY **COMPANY LIMITED**



I. The name of the Company is MYANMAR CHEMICAL & MACHINERY **COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 1000,000,000/- ( Kyats One thousand million Only ) divided into ( 100000 ) shares of Ks. 10,000 /- ( Kyats Ten thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

(1) To carry on the trading business of importers, exporters, wholesalers and retailers of the following commodities and products permitted by the Government, solely on its own or in join-venture with any foreign or local partners.

(a) Agricultural and farm produces.

(b) Forest products and value-added wood-based products.

(c) Animal by-products and Animal feed.

(d) Marine products.

(e) Fertilizer and insecticides.

(f) Chemicals and dyes.

(g) Factory utencils and raw material

(h) Household goods.

(i) Personal goods.

(j) Construction materials and paints.

(k) Electrical and electronic products.

(l) Vehicles, Machinery and spares.

(m) Tools and implement.

(n) Medicines and medical equipment.

(o) Foodstuff and general merchandise.

(p) Textile and garment.

(q) Paper, stationery and photographic stores.

(r) Office equipment and educational supplies.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U AUNG HLAING OO<br>No.1120-2121,Thu Mingalar Street,16/4 Ward,Thingungyun Township,Yangon. (Merchant) | Myanmar<br>12/LaMaTa (Naing)025897 | | |
| 2. | DAW KHIN NWE MAR TUN<br>No.1120-1121,Thu Mingalar Street,16/4 Ward,Thingungyun Township,Yangon. (Merchant) | Myanmar<br>13/KaTaNa (Naing)002698 | | |
| 3. | | | | |

Yangon. Dated the 24th day of May , 2001.

*It is hereby certified that the persons mentioned above put their signatures in my presence.*

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF


MYANMAR CHEMICAL & MACHINERY COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 1000,000,000 /- ( Kyats One thousand million Only) divided into( 100000 ) shares of K. 10,000 /- ( Kyats Ten thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board ot Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 9 ).

The First Directors shall be:-

(1) U AUNG HLAING OO

(2) DAW KHIN NWE MAE TUN

(3)

(4)

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( 10 ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

(8) To appoint any perosn or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or finacial organisation of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-
*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*
*(2) all sales and purchases of goods by the Company;*
*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U AUNG HLAING OO<br>No.1120-1121,Thu Mingalar Street,16/4 Ward,Thingungyun Township,Yangon.<br>(Merchant) | Myanmar<br>12/LaMaTa<br>(Naing)025897 | | |
| 2. | DAW KHIN NWE MAR TUN<br>No.1120-1121,Thu Mingalar Street,16/4 Ward,Thingungyun Township,Yangon.<br>(Merchant) | Myanmar<br>13/KaTaNa<br>(Naing)002698 | | |
| 3. | | | | |

Yangon. Dated the 24th day of May , 2001.

*It is hereby certified that the persons mentioned above put their signatures in my presence.*